အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Enatic Automotive Co., Ltd. မှ မော်တော်ယာဉ် ပြုပြင်ထိန်းသိမ်းရေး အသက်မွေးမှုအတတ်ပညာ သင်တန်းကျောင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br>လုပ်ငန်းအမျိုးအစား | - **Enatic Automotive Co., Ltd.**<br>- Mr. Teruo Takahashi<br>- ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Ehime Nissan Motor Co., Ltd. (ဂျပန်) ၇၀%<br>NA Associates Co., Ltd. (မြန်မာ) ၃၀%<br>- မော်တော်ယာဉ် ပြုပြင်ထိန်းသိမ်းရေး အသက်မွေးမှုအတတ်ပညာ သင်တန်းကျောင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-၁၇၃(က၊ခ)၊ မြဝတီမင်းကြီးလမ်းနှင့် ဆိပ်ကမ်းသာလမ်းထောင့်၊ စက်မှုဇုန်အပိုင်း(၄)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေ/အဆောက်အဦပိုင်ရှင်<br>မြေအကျယ်အဝန်း<br>မြေ/အဆောက်အဦငှားရမ်းခ<br>မြေ/အဆောက်အဦငှားရမ်း/ အသုံးပြုခွင့်သက်တမ်း | - ဦးမိုးဝင်းမောင်<br>- ၂.၅၇၈ ဧက<br>- US$ ၈၄,၀၀၀<br>- ကနဦး ၅ နှစ် (သက်တမ်းတိုး ၅ နှစ်) |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့် သက်တမ်း | - ၂၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း<br>**ထည့်ဝင်မည့်အမျိုးအစား** | - အမေရိကန်ဒေါ်လာ ၄.၈၀၀ သန်း |

| | **နိုင်ငံခြား** (၇၀%) | **မြန်မာ** (၃၀%) | **ချေးငွေ** (US$ /သန်း) | **စုစုပေါင်း** (US$ / သန်း) |
|---|---|---|---|---|
| Cash | - | ၀.၁၀၀ | ၃.၄၅၀ | ၃.၅၅၀ |
| Machinery & Equipment (Import) | ၀.၇၀၀ | - | ၀.၁၅၀ | ၀.၈၅၀ |
| Building Material(Import) | ၀.၁၄၀ | ၀.၂၆၀ | - | ၀.၄၀၀ |
| စုစုပေါင်း | **၀.၈၄၀** | **၀.၃၆၀** | **၃.၆၀၀** | **၄.၈၀၀** |

| | | |
|---|---|---|
| ၇။ | နှစ်စဉ်ဝန်ဆောင်မှု | စဉ် / ဝန်ဆောင်မှု အမျိုးအမည် / ကာလ / ဝန်ဆောင်ခ (US$)<br>(က) Car Maintenance Course / ၃ လ / ၁,၀၀၀<br>(ခ) Car Maintenance Course / ၁ နှစ် / ၃,၀၀၀<br>(ဂ) Body Repaired and Painting Course(BP) / ၆ လ / ၁,၅၀၀ |
| ၈။ | ဝန်ထမ်းခန့်ထားမှု | ပြည်တွင်း / ပြည်ပ<br>**ဦးရေ** ၂၇ ဦး / ၅ ဦး<br>**အမြင့်ဆုံးလစာ US$** ၁,၅၀၀ / ၁၀,၀၀၀<br>**အနိမ့်ဆုံးလစာ US$** ၁၅၀ / ၇,၀၀၀ |
| ၉။ | အခြားတင်ပြချက် | - ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ လုပ်ငန်းခွင်ဘေးကင်းရေးနှင့် သက်သာချောင်ချိရေး အစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေး အစီအစဉ် နှင့် လူမှုရေးဆိုင်ရာ တာဝန်ယူဆောင်ရွက်မှု အစီအစဉ် အစီအစဉ် တို့အား တင်ပြထားပါသည်။<br>- Joint Venture Agreement စာချုပ် (မူကြမ်း)၊ စက်ရုံအဆောက်အဦ ငှားရမ်းခြင်းစာချုပ်(မူကြမ်း)၊ ပိုင်ဆိုင်မှုအထောက်အထား၊ Loan Agreement နှင့် လုပ်ငန်း ဆောင်ရွက်မည့် Layout Plan တို့အား ပူးတွဲ တင်ပြထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် Enatic Automotive Co., Ltd. အမည်ဖြင့် Mizuho Bank (Yangon Branch) တွင် ၂၈-၃-၂၀၁၉ ရက်စွဲဖြင့် US$ ၇၀၀,၀၀၀.၀၀ ရှိကြောင်း တင်ပြထားပါသည်။<br>- Ehime Nissan Motor Co., Ltd. နှင့် Enatic Automotive Co., Ltd. တို့ချုပ်ဆိုမည့် Loan Agreement စာချုပ်(မူကြမ်း) နှင့် ချေးငွေပြန်လည်ပေးဆပ်မည့် အစီအစဉ် တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - Enatic Automotive Co., Ltd.၏ အသက်မွေးပညာသင်ကျောင်း ဖွင့်လှစ်မည့်လုပ်ငန်းသည်ကော်မရှင်အမိန့်ကြော်ငြာစာ ၁၃/ ၂၀၁၇ အရ ရင်းနှီးမြှုပ်နှံမှုမြှင့်တင်မည့် ကဏ္ဍတွင်ပါဝင်ပါသဖြင့် ဝင်ငွေခွန်ကင်းလွတ်ခွင့်ရရှိမည်ဖြစ်ပြီး ကော်မရှင်အမိန့်ကြော်ငြာ စာ ၁၀/၂၀၁၇ အရ ဇုန်(၃) တွင်ပါဝင်ပါသဖြင့် ဝင်ငွေခွန် ကင်း လွတ်ခွင့် (၃) နှစ် ခံစားခွင့်ရှိမည်ဖြစ်ပါသည်။ |

| | | |
|---|---|---|
| | | - ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- Ehime Nissan Group လက်အောက်ရှိ Ehime Nissan Motor Co., Ltd. သည် ဂျပန်နိုင်ငံတွင် မော်တော်ယာဉ် ပြုပြင်ထိန်းသိမ်းရေး အသက်မွေးကျောင်းလုပ်ငန်းကို ၁၉၇၇ ခုနှစ်စ၍ လုပ်ကိုင်နေသော ကုမ္ပဏီ ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- ကော်မရှင်အတည်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များလျှောက်ထားရန်လိုအပ်ပါသည်။<br>- အတည်ပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/အ-၀၁၂/ ၂၀၁၉(၄၆၉)

ရက်စွဲ၊ ၂၀၁၉ခုနှစ် အောက်တိုဘာ လ ၁၆ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
## တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Enatic Automotive Co., Ltd. မှ မော်တော်ယာဉ်ပြုပြင်ထိန်းသိမ်းရေး အသက်မွေးမှုအတတ်ပညာ သင်တန်းကျောင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဂျပန်နိုင်ငံ Ehime Nissan Motor Co., Ltd. မှ ၇၀% နှင့် မြန်မာနိုင်ငံ NA Associates Co., Ltd. မှ ၃၀% အစုရှယ်ယာထည့်ဝင်၍ မြန်မာနိုင်ငံတွင် Enatic Automotive Co., Ltd. တည်ထောင်ပြီး မြေကွက်အမှတ်-၁၇၃(က၊ခ)၊ မြဝတီမင်းကြီးလမ်းနှင့် ဆိပ်ကမ်းသာ လမ်းထောင့်၊ စက်မှုဇုန်အပိုင်း(၄)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၂.၅၇၈ ဧကတွင် မော်တော်ယာဉ်ပြုပြင်ထိန်းသိမ်းရေး အသက်မွေးမှုအတတ်ပညာ သင်တန်းကျောင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ အတည်ပြု လျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ Enatic Automotive Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင် လက်မှတ်၊ လုပ်ငန်းခွင်ဘေးကင်းရေးနှင့် သက်သာချောင်ချိရေး အစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေး အစီအစဉ် ၊ လူမှုရေးဆိုင်ရာ တာဝန်ယူဆောင်ရွက်မှု အစီအစဉ်၊ Joint Venture Agreement စာချုပ် (မူကြမ်း)၊ Loan Agreement(မူကြမ်း)၊ စက်ရုံအဆောက်အဦ ငှားရမ်းခြင်းစာချုပ် (မူကြမ်း)၊ ပိုင်ဆိုင်မှုအထောက်အထားနှင့် လုပ်ငန်းဆောင်ရွက်မည့် Layout Plan တို့အား ပူးတွဲ တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၅ နှစ် ဖြစ်ပြီး သက်တမ်းတိုး ၅ နှစ် ငှားရမ်းမည်ဖြစ်ပါသည်။ စုစုပေါင်းမြေ ၂.၅၇၈ ဧက ပေါ်ရှိ အဆောက်အဦငှားရမ်း၍ နှစ်စဉ်ငှားရမ်းခမှာ အမေရိကန်ဒေါ်လာ ၈၄,၀၀၀ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ၂၀ နှစ် ဆောင်ရွက်မည်ဖြစ်ပြီး တည်ဆောက်ရေးကာလ ၁ နှစ် ဆောင်ရွက်မည်ဖြစ်ပါသည်။

၅။ အတည်ပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၄.၈၀၀ သန်း ဖြစ်ပါ သည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| ထည့်ဝင်မည့်အမျိုးအစား | နိုင်ငံခြား (၇၀%) | မြန်မာ (၃၀%) | ဈေးငွေ (US$/သန်း) | စုစုပါင်း (US$/သန်း) |
|---|---|---|---|---|
| ငွေသား | - | ၀.၁၀၀ | ၃.၄၅၀ | ၃.၅၅၀ |
| Machinery & Equipment (Import) | ၀.၇၀၀ | - | ၀.၁၅၀ | ၀.၈၅၀ |
| Building Material(Import) | ၀.၁၄၀ | ၀.၂၆၀ | - | ၀.၄၀၀ |
| စုစုပေါင်း | ၀.၈၄၀ | ၀.၃၆၀ | ၃.၆၀၀ | ၄.၈၀၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ၂၇ ဦး နှင့် ပြည်ပဝန်ထမ်း ၅ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁၅၀ နှင့် အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁,၅၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၇,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁၀,၀၀၀ ဖြစ်ပါသည်။

၇။ အတည်ပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးမည့်အမျိုးအစားများနှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | ဝန်ဆောင်မှု အမျိုးအမည် | ကာလ | ဝန်ဆောင်ခ(US$) |
|---|---|---|---|
| (က) | Car Maintenance Course | ၃ လ | ၁,၀၀၀ |
| (ခ) | Car Maintenance Course | ၁ နှစ် | ၃၀၀၀ |
| (ဂ) | Body Repaired and Painting Course (BP) | ၆ လ | ၁,၅၀၀ |

၈။ အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဝန်ကြီးဌာန၊ အဖွဲ့အစည်းများသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ၂၀၁၉ ခုနှစ် စက်တင်ဘာ လ ၁၉ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ၃၇/၂၀၁၉၊ ဆုံးဖြတ်ချက်အပိုဒ် (၅၀) အရ အမှတ်-၁၇၃(က၊ခ)၊ မြတတီမင်းကြီးလမ်းနှင့် ဆိပ်ကမ်းသာလမ်းထောင့်၊ စက်မှုဇုန်အပိုင်း(၄)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၂.၅၇၈ ဧကတွင် Enatic Automotive Co., Ltd. မှ မော်တော်ယာဉ်ပြုပြင်ထိန်းသိမ်းရေး အသက်မွေးအတတ်ပညာသင်တန်းကျောင်း လုပ်ငန်းဆောင်ရွက်ခြင်းအား ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားခဲ့ပါ သည်။

(ခ) ပညာရေးဝန်ကြီးဌာန **(နောက်ဆက်တွဲ-ခ)**

အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့် ကိုက်ညီပါကပုဂ္ဂလိက ရင်းနှီး

မြှုပ်နှံမှုကို ထောက်ခံပါကြောင်းနှင့် ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက်ဆောင်ရွက်ရမည် ဖြစ်ပါကြောင်း သဘောထားပြန်ကြားခဲ့ပါသည်။

၉။ ငွေကြေးအထောက်အထားအဖြစ် Enatic Automotive Co., Ltd. အမည်ဖြင့် Mizuho Bank (Yangon Branch) တွင် ၂၈-၃-၂၀၁၉ ရက်စွဲဖြင့် US$ ၇၀၀,၀၀၀.၀၀ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) Enatic Automotive Co., Ltd.၏ အသက်မွေးပညာသင်ကျောင်း ဖွင့်လှစ်မည့်လုပ်ငန်းသည်ကော်မရှင်အမိန့်ကြော်ငြာစာ ၁၃/ ၂၀၁၇ အရ ရင်းနှီးမြှုပ်နှံမှုမြှင့်တင် မည့် ကဏ္ဍတွင်ပါဝင်ပါသဖြင့် ဝင်ငွေခွန်ကင်းလွတ်ခွင့်ရရှိမည်ဖြစ်ပြီး ကော်မရှင်အမိန့် ကြော်ငြာ စာ ၁၀/၂၀၁၇ အရ ဇုန်(၃) တွင်ပါဝင်ပါသဖြင့် ဝင်ငွေခွန် ကင်း လွတ်ခွင့် (၃) နှစ် ခံစားခွင့်ရှိမည်ဖြစ်ပါသည်။

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ဂ) ကော်မရှင်အတည်ပြုမိန့်ရရှိပြီးပါက ကုမ္ပဏီအနေဖြင့် သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထား ရန် လိုအပ်ပါသည်။

(ဃ) Ehime Nissan Group လက်အောက်ရှိ Ehime Nissan Motor Co., Ltd. သည် ဂျပန်နိုင်ငံတွင် မော်တော်ယာဉ် ပြုပြင်ထိန်းသိမ်းရေး အသက်မွေးကျောင်း လုပ်ငန်းကို ၁၉၇၇ ခုနှစ်စ၍ လုပ်ကိုင်နေသော ကုမ္ပဏီ ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(င) အတည်ပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Enatic Automotive Co., Ltd.မှ မော်တော်ယာဉ်ပြုပြင်ထိန်းသိမ်းရေး အသက်မွေးမှုအတတ်ပညာ သင်တန်းကျောင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အတည်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စားလှယ်)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ



(နောက်ဆက်တွဲ-က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ဖ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ စက်တင်ဘာလ ၂၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃.၈.၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက - ၅ (အ) / အ - ၀၁၂ / ၂၀၁၉ (၄၀၅)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Enatic Automotive Co.,Ltd မှ အမှတ် ၁၇၃ (က။ခ)၊ မြဝတီမင်းကြီးလမ်းနှင့် ဆိပ်ကမ်းသာလမ်းထောင့်၊ စက်မှုဇုန်အပိုင်း(၄)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်းမြေ ၂.၅၇၈ ဧကတွင် မော်တော်ယာဉ်ပြုပြင်ထိန်းသိမ်းရေး အသက်မွေးမှု အတတ်ပညာသင်တန်းကျောင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၁၉.၉.၂၀၁၉ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၇/၂၀၁၉)၊ ဆုံးဖြတ်ချက်အပိုဒ်(၅၀)အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

မိတ္တူကို

တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Enatic Automotive Co.,Ltd
လက်ခံစာတွဲ
မျှောစာတွဲ

D/2019/Cabinet 37(6)

| ဝင်စာအမှတ် | M၄-၁၉၉၇ |
|---|---|
| ရက်စွဲ | ၁.၇.၂၀၁၇ |

ဝ/ရ 178/7

(နောက်ဆက်တွဲ-ခ)



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ပညာရေးဝန်ကြီးဌာန
## ဝန်ကြီးရုံး

စာအမှတ်၊ မူဝါဒ(၂၁)/၃-၇(၁)က/၂၀၁၉(၈၅၉၈)

ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဩဂုတ်လ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃-၈-၂၀၁၉ ရက်စွဲပါ စာအမှတ်၊ မရက - ၅(အ)/ အ - ၀၁၂/ ၂၀၁၉ (၄၀၄)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Enatic Automotive Co., Ltd. မှ အမှတ် ၁၇၃ (က၊ ခ) မြဝတီမင်းကြီးလမ်းနှင့် ဆိပ်ကမ်းသာလမ်းထောင့်၊ စက်မှုဇုန်အပိုင်း(၄)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်းမြေ(၂.၅၇၈)ဧကတွင် မော်တော်ယာဉ်ပြုပြင် ထိန်းသိမ်းရေး အသက်မွေးမှုအတတ်ပညာသင်တန်းကျောင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်အား (၆-၉-၂၀၁၉)ရက်နေ့နောက်ဆုံး ပြန်ကြား ပေးနိုင်ပါရန်နှင့် သတ်မှတ်ရက်အတွင်းအချိန်မီ မပြန်ကြားနိုင်ပါက သဘောတူညီသည်ဟုမှတ်ယူ၍ ဆက်လက်ဆောင်ရွက်မည်ဖြစ်ပါကြောင်း အကြောင်းပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် သဘောထားမှတ်ချက် တောင်းခံလာပါသည်။

1241 / 5.9.19

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အသက်မွေးမှုအတတ်ပညာသင်တန်းကျောင်း လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် လာရောက်လျှောက်ထားသည့် ကုမ္ပဏီများနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ သတ်မှတ်ချက်များကို မဖြစ်မနေစိစစ်ရန်နှင့် Enatic Automotive Co., Ltd. ၏ လုပ်ငန်းသည် နိုင်ငံတကာအသိအမှတ်ပြု ခိုင်မာမှု ရှိ/မရှိ စိစစ်ရန်လည်း လိုအပ်ပါသည် -

(က) ရင်းနှီးမြှုပ်နှံသူ/ အဖွဲ့အစည်း၏ နိုင်ငံသားဖြစ်မှု (မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

D:\c-3\Land-2019\Land Cover Letter - 2019.docx

(ခ) ရင်းနှီးမြှုပ်နှံမှုပုံစံ၊

(၁) နိုင်ငံသား၊

(၂) နိုင်ငံသားနှင့်နိုင်ငံခြားသားဖက်စပ်

(၃) နိုင်ငံခြားသား၊

(ဂ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်း/သင်တန်းအမျိုးအစား

(ဃ) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်အမျိုးအစားများနှင့် အသိအမှတ်ပြုသည့်အဖွဲ့အစည်း၊

(င) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်များ၏ နမူနာပုံစံ၊

(စ) သင်ရိုးညွှန်းတမ်းနှင့် သင်ရိုးမာတိကာအမျိုးအစား (အမျိုးသားသင်ရိုးညွှန်းတမ်း သို့မဟုတ် အပြည်ပြည်ဆိုင်ရာသင်ရိုးညွှန်းတမ်း)၊

(ဆ) ပုဂ္ဂလိကကျောင်း၏ အုပ်ချုပ်ရေး၊ စီမံခန့်ခွဲရေး၊ သင်ကြားရေးဆိုင်ရာကိစ္စများကို တာဝန်ခံဆောင်ရွက်သောပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်းဝင်များ၏ ပညာအရည် အချင်း အထောက်အထား၊

(ဇ) ပုဂ္ဂလိကကျောင်း၏ အတန်းများတွင် ဘာသာရပ်အလိုက် သင်ကြားမည့် ပုဂ္ဂလိက ကျောင်းဆရာများ၏ ဘွဲ့လက်မှတ်၊ အထောက်အထားများ၊ သင်ကြားရေးအတွေ့အကြုံ များနှင့်ကိုယ်ရေးအကျဉ်း၊

(ဈ) ကျောင်းဆရာ၏ နိုင်ငံသားဖြစ်မှု ( မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ည) ပုဂ္ဂလိကကျောင်း၏ ဆရာ၊ ဆရာမနှင့် စီမံခန့်ခွဲရေးဝန်ထမ်း လုံလောက်မှုရှိကြောင်း ဝန်ခံချက်၊

(ဋ) ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် ထားရှိရမည့် ကျောင်းပရိဝုဏ်၊ အဆောက်အအုံ လုံလောက်မှု ရှိ/မရှိနှင့် အသုံးပြုခွင့်ရှိသော အထောက်အထား၊

(ဌ) ပုဂ္ဂလိကကျောင်း ဖွင့်လှစ်ခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း၊ ပုဂ္ဂလိက ကျောင်းတည်ထောင်ဖွင့်လှစ်မည့် ပရိဝုဏ်၏ ဘေးပတ်ဝန်းကျင်တွင် အနီးစပ်ဆုံး နေထိုင်သူအနည်းဆုံး(၁၀)ဦး သဘောတူလက်မှတ်ရေးထိုးထားသည့် အထောက်အထားနှင့် ယင်းအထောက်အထား မှန်ကန်ကြောင်း သက်ဆိုင်ရာ ရပ်ကွက်အုပ်ချုပ်ရေးမှူး၏ ထောက်ခံချက်၊

(ဍ) ပညာရပ်ဆိုင်ရာဝန်းကျင်ကောင်းရှိ/မရှိ

(၁) ပုဂ္ဂလိကကျောင်းဝင်း၊ ပတ်ဝန်းကျင်၊ စာသင်ခန်းများ၊ လက်တွေ့ခန်းများ သည် ကျန်းမာရေးနှင့်ညီညွတ်၍ သန့်ရှင်းစင်ကြယ်စေရန် အစီအစဉ်ထားရှိခြင်း၊

(၂) အရေးပေါ်ကျန်းမာရေးစောင့်ရှောက်မှု အစီအစဉ်ထားရှိခြင်း၊

(၃) ကျောင်းလုံခြုံရေးနှင့် မီးဘေးကာကွယ်ရေးအစီအစဉ်ထားရှိခြင်း၊

(ဎ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် သက်ဆိုင်ရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်၊

(ဏ) အမျိုးသားပညာရေးဥပဒေ၊ တည်ဆဲပညာရေးဆိုင်ရာ ဥပဒေများကို လိုက်နာရန်နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် ကတိပြုဝန်ခံချက်၊

(တ) ပုဂ္ဂလိကကျောင်း၏ ပရိဝုဏ်အတွင်း အရက်သေစာ၊ ဆေးလိပ်နှင့် မူးယစ်ဆေးဝါး သုံးစွဲခြင်း မရှိစေရေး ကတိဝန်ခံချက်၊

(ထ) ဆရာ၊ ဆရာမနှင့် ကျောင်းသား၊ ကျောင်းသူများ၏ ကာယိန္ဒြေ ထိခိုက်မှု မရှိစေရေး ကတိဝန်ခံချက်၊

(ဒ) လုံခြုံဘေးကင်းပြီး ကလေးပျော် စံပြစာသင်ကျောင်း ဆောက်လုပ်ရေး လမ်းညွှန် ချက်နှင့်အညီ ဆောင်ရွက်ရန် ကတိပြုဝန်ခံချက် (Safe and Child-friendly School Construction Guidelines)

၃။ ပညာရေးဝန်ကြီးဌာနသို့ ဆက်သွယ်ဆောင်ရွက်လိုပါက အောက်ဖော်ပြပါ ပုဂ္ဂိုလ်အား ဆက်သွယ်ဆောင်ရွက်နိုင်ပါကြောင်း ဖော်ပြအပ်ပါသည်-

ဒေါက်တာကျော်နိုင်

ဒုတိယအမြဲတမ်းအတွင်းဝန်

ပညာရေးဝန်ကြီးဌာန

ဖုန်း- ၀၆၇ ၃၄၀၇၁၁၆

အီးမေးလ် – drkyawnaing2009@gmail.com

၄။ သို့ဖြစ်ပါ၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Enatic Automotive Co., Ltd. မှ အမှတ် ၁၇၃ (က၊ ခ) မြဝတီမင်းကြီးလမ်းနှင့် ဆိပ်ကမ်းသာလမ်းထောင့်၊ စက်မှုဇုန်အပိုင်း(၄)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်းမြေ(၂.၅၇၈)ဧကတွင် မော်တော်ယာဉ်ပြုပြင်ထိန်းသိမ်းရေး အသက်မွေးမှုအတတ်ပညာသင်တန်းကျောင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာနအနေဖြင့် မြန်မာ့ပညာရေးကဏ္ဍတွင် ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ကြိုဆိုပါကြောင်း၊ ပညာရေးဝန်ဆောင်မှု ဆိုင်ရာလုပ်ငန်းများအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း စည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်ကိုက်ညီပါက ပုဂ္ဂလိက ရင်းနှီးမြှုပ်နှံမှုကိုထောက်ခံပါကြောင်းနှင့် ပညာရေးလုပ်ငန်းခွင့်ပြုချက်ရရှိရန် အချိန်ယူစိစစ်ဆောင်ရွက်ရသည့်အတွက် ၂၀၁၉ ခုနှစ်၊ စက်တင်ဘာလ(၆)ရက်နေ့တွင် ပြန်ကြားရန် ခက်ခဲပါကြောင်း (အမျိုးသားပညာရေးဥပဒေ ပုဒ်မ -၂ (ဓ) အရ အမျိုးသားပညာရေးမူဝါဒကော်မရှင်၊ အမျိုးသားပညာရေးအဆင့်အတန်းနှင့် အရည်အသွေးအာမခံမှု အကဲဖြတ်ရေးကော်မတီနှင့် ပါမောက္ခချုပ်များကော်မတီတို့၏ သဘောထားရယူရန်လိုကြောင်း) ပြန်ကြားအပ်ပါသည်။

Kyaw Naing
28 - 8 - 19

ဒုတိယဝန်ကြီး (ကိုယ်စား)

(ဒေါက်တာကျော်နိုင်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)မူဝါဒ

Soe- Khaing K.

မိတ္တူကို

နည်းပညာ၊ သက်မွေးပညာနှင့်လေ့ကျင့်ရေးဦးစီးဌာန

ရုံးလက်ခံ

မျှောစာတွဲ